အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Ayeyarwaddy Success Venture Foods Company Limited (ဧရာဝတီစပ်ဆက် (စ) ဗန်ချာဖုဒ်(စ်) ကုမ္ပဏီလီမိတက်)မှ အသင့်စားခေါက်ဆွဲများ ထုတ်လုပ်သောလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | -Ayeyarwaddy Success Venture Foods Company Limited (ဧရာဝတီ စပ်ဆက်(စ) ဗန်ချာဖုဒ်(စ်) ကုမ္ပဏီလီမိတက်) |
| | ကမကထပြုသူ | - ဦးမြင့်ဦး |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Thai President Foods Public Co.,Ltd (ထိုင်း)- ၅၁%<br>Saha Pathanapibul Public Co.,Ltd. (ထိုင်း)- ၂၄%<br>Mantakanok Co.,Ltd. (ထိုင်း)- ၅%<br>Ayeyarwaddy Food Industries Co.,Ltd(မြန်မာ)-၂၀% |
| | လုပ်ငန်းအမျိုးအစား | - အသင့်စားခေါက်ဆွဲများ ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ် ၅၆/၂၊ ၅၆/၃၊ ၅၇၊ ၅၈၊ ကွင်းအမှတ်၄-ခ/ တဘက်ဆွဲ ဦးပိုင်အမှတ် ၈၆/၁၀၊ ကွင်း-၅ တပ်မျှော၊ တဘက်ဆွဲ ကျေးရွာအုပ်စု၊ စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဒေါ်တင်မြ(ခ) ဒေါ်လွင်လွင် |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၆.၂၂၀ ဧက (၂၅,၁၇၁.၄၆၉ စတုရန်းမီတာ) |
| | မြေငှားရမ်းခ | - တစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁.၄၃ |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| ၅။ | တည်ဆောက်ရေးကာလ | - ၃ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - အမေရိကန်ဒေါ်လာ ၁၀.၀၀၀ သန်း |

| | ပြည်ပ (US$/သန်း) | ပြည်တွင်း (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|
| ငွေသား | ၂.၆၁၀ | ၂.၀၀၀ | ၄.၆၁၀ |
| စက်ပစ္စည်း (ပြည်ပ) | ၁.၃၃၀ | | ၁.၃၃၀ |
| စက်ပစ္စည်း (ပြည်တွင်း) | ၀.၆၈၀ | | ၀.၆၈၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း (ပြည်ပ) | ၀.၀၃၀ | | ၀.၀၃၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း (ပြည်တွင်း) | ၀.၃၆၀ | | ၀.၃၆၀ |
| မော်တော်ယာဉ်(ပြည်ပ) | ၀.၁၃၀ | | ၀.၁၃၀ |
| မော်တော်ယာဉ်(ပြည်တွင်း) | ၀.၀၅၀ | | ၀.၀၅၀ |
| ရေသန့်စင်စနစ် | ၀.၁၂၀ | | ၀.၁၂၀ |
| ရေဆိုးသန့်စင်စနစ် | ၀.၄၉၀ | | ၀.၄၉၀ |
| အဆောက်အဦတန်ဖိုး | ၂.၂၀၀ | | ၂.၂၀၀ |
| စုစုပေါင်း | ၈.၀၀၀ | ၂.၀၀၀ | ၁၀.၀၀၀ |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - ၁၉၃ ဦး |
| | ပြည်တွင်း | - ၁၉၀ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၈၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၃ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၃၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀ % |
| ၉။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း | |

| စဉ် | ပစ္စည်း အမျိုးအစား | အရေ အတွက် (Ctn) | ရောင်းဈေးနှုန်း (ကျပ်/ Ctn) |
|---|---|---|---|
| ၁။ | Noodle | | |
| | -Shrimp Tom Yum flavour | ၃၄,၈၆၀ | ၂၇,၆၀၀ |
| | -Shrimp Tom Yum 5Pack | ၅၄,၆၆၀ | ၂၇,၃၀၀ |
| | -Chicken Soup flavour | ၁၅,၀၀၀ | ၂၄,၆၀၀ |
| | - Chicken Soup flavour 5Pack | ၃၂,၆၄၀ | ၂၄,၃၀၀ |
| | -Chicken Sichek flavour | ၆,၀၀၀ | ၂၄,၆၀၀ |
| | - Vegetable Sichek flavour | ၆၀၀ | ၂၄,၀၀၀ |
| | - Coconut Milk flavour | ၄,၆၈၀ | ၃၂,၄၀၀ |
| | - Egg Protein Noodles | ၇၈၀ | ၂၄,၀၀၀ |
| | -Seafood Tom Yum Sichek flavour | ၁၃,၂၀၀ | ၂၄,၆၀၀ |
| | -Shrimp Creamy Tom Yum flavour | ၂,၅၂၀ | ၂၇,၆၀၀ |
| | - Chinese Kitchen flavour | ၄၂၀ | ၂၈,၂၀၀ |
| | -Korea Hot & Spicy flavour | ၁,၂၀၀ | ၂၉,၁၀၀ |
| | -Korea Hot & Spicy 5 Pack | ၅,၃၄၀ | ၂၈,၈၀၀ |

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (Ctn) | ရောင်းဈေးနှုန်း (ကျပ်/ Ctn) |
|---|---|---|---|
| | Snacks | | |
| | -Ranger Snack Shrimp Tom Yum | ၂၁,၇၈၀ | ၁၈,၇၂၀ |
| | -Ranger Snack Garlic Chicken | ၁၉,၀၈၀ | ၁၈,၇၂၀ |
| | -Ranger Snack BBQ | ၈၀,၂၅၆ | ၁၈,၇၂၀ |
| | -Ranger Snack Prawn | ၆၆၀ | ၁၈,၇၂၀ |
| | -Ranger Snack Popcorn | ၉၆၀ | ၁၈,၇၂၀ |
| | -Ranger Snack Sour Cream | ၁,၀၅၆ | ၁၈,၇၂၀ |
| | -Ranger Snack Pizza | ၁,၀၈၀ | ၁၈,၇၂၀ |
| | -Ranger Snack Nori Seaweed | ၃,၁၂၀ | ၁၈,၇၂၀ |
| | Noodle (CUP) | | |
| | -Shrimp Tom Yum flavour (Cup) | ၂,၀၄၀ | ၉,၉၅၀ |
| | -Chicken Soup flavour (Cup) | ၁,၀၂၀ | ၉,၄၅၀ |
| | - Coconut flavour | ၁,၀၂၀ | ၉,၉၅၀ |

| | | |
|---|---|---|
| ၁၀။ | အခြားတင်ပြချက် | - ငွေရေးကြေးရေး အထောက်အထားအဖြစ် Thai President Foods Public Company Limited အမည်ဖြင့် ထိုင်းနိုင်ငံ Bangkok Bank တွင် ၂၂-၅-၂၀၁၈ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁,၇၇၁,၆၁၂ နှင့် Ayeyarwaddy Food Industries Company Limited အမည်ဖြင့် မြန်မာနိုင်ငံ ကမ္ဘောဇဘဏ်တွင် ၃၁-၇-၂၀၁၈ ရက်စွဲဖြင့် မြန်မာကျပ်ငွေ ၁၄၀,၁၈၅,၉၁၅ ရှိကြောင်း တင်ပြထားပါသည်။<br>- Ayeyarwaddy Food Industries Co., Ltd. မှ တစ်ဦးတည်း မူပိုင်အဖြစ် မှတ်ပုံတင်ထားသော ကုန်အမှတ်တံဆိပ် MAMA အား ဖက်စပ်ကုမ္ပဏီဖြစ်သော Ayeyarwaddy Success Venture Foods Company Limited ၏ ထုတ်ကုန်များတွင် အခကြေးငွေ တစ်စုံတစ်ရာကောက်ခံခြင်း မပြုဘဲ သုံးစွဲခွင့်ပြုကြောင်း ဆုံးဖြတ်ချက်အား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - Ayeyarwaddy Success Venture Foods Company Limited နှင့် မြေပိုင်ရှင်ဖြစ်သော ဒေါ်တင်မြ(ခ)ဒေါ်လွင်လွင် တို့ချုပ်ဆိုထားသော မြေငှားစာချုပ် (မူကြမ်း)ကို တင်ပြထားပါသည်။<br>- ထိုင်းနိုင်ငံမှ Thai President Foods Public Co.,Ltd, Saha Pathanapibul Public Co.,Ltd, Mantakanok Co.,Ltd နှင့် မြန်မာနိုင်ငံမှ ဧရာဝတီစားသောက်ကုန်လုပ်ငန်းတို့ချုပ်ဆိုထားသော Joint Venture စာချုပ် ကို တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ISIC 1074တွင် အကျုံးဝင်ပြီး ဖွံ့ဖြိုးတိုးတက်မှုဇုန် ၃ တွင် ပါဝင်ပါသည်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်နေ့စွဲပါ အမိန့်ကြော်ငြာစာ အမှတ်- ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှုကဏ္ဍစာရင်းတွင်ပါဝင်ပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ အ-၀၃၇/ ၂၀၁၈ (၅၁၄ )
ရက်စွဲ ၊၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Ayeyarwaddy Success Venture Foods Company Limited (ဧရာဝတီစပ်ဆက်(စ) ဗန်ချာဖု(ဒ်)(စ်) ကုမ္ပဏီလီမိတက်) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အသင့်စားခေါက်ဆွဲများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Ayeyarwaddy Success Venture Foods Company Limited (ဧရာဝတီစပ်ဆက်(စ) ဗန်ချာဖု(ဒ်)(စ်) ကုမ္ပဏီလီမိတက်) မှ ဦးပိုင်အမှတ် ၅၆/၂၊ ၅၆/၃၊ ၅၇၊ ၅၈၊ ကွင်းအမှတ်၄-ခ၊ တဘက်ဆွဲ၊ ဦးပိုင်အမှတ် ၈၆/၁၀၊ ကွင်းအမှတ်-၅ ၊ တပ်မျှော၊ တဘက်ဆွဲကျေးရွာအုပ်စု၊ စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ ၆.၂၂၀ ဧက (၂၅,၁၇၁.၄၆၉ စတုရန်းမီတာ) ကို ငှားရမ်းကာ အသင့်စားခေါက်ဆွဲများ ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြုချက် တင်ပြလာပါသည်။

၂။ အတည်ပြုချက်နှင့်အတူ မြေအထောက်အထားအဖြစ် မြေပိုင်ရှင်ဖြစ်သော ဒေါ်တင်မြ(ခ) ဒေါ်လွင်လွင်အမည်ပေါက် မြေဂရန်များကို တင်ပြထားပါသည်။ Ayeyarwaddy Success Venture Foods Company Limited နှင့် မြေပိုင်ရှင်ဖြစ်သော ဒေါ်တင်မြ(ခ) ဒေါ်လွင်လွင် တို့ချုပ်ဆိုထားသော မြေငှားစာချုပ် (မူကြမ်း) ကို တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ ၃ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၀.၀၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| | ပြည်ပ (US$/ သန်း) | ပြည်တွင်း (US$/ သန်း) | စုစုပေါင်း (US$/ သန်း) |
|---|---|---|---|
| ငွေသား | ၂.၆၁၀ | ၂.၀၀၀ | ၄.၆၁၀ |
| စက်ပစ္စည်း (ပြည်ပ) | ၁.၃၃၀ | | ၁.၃၃၀ |
| စက်ပစ္စည်း (ပြည်တွင်း) | ၀.၆၈၀ | | ၀.၆၈၀ |

| | ပြည်ပ (US$/ သန်း) | ပြည်တွင်း (US$/ သန်း) | စုစုပေါင်း (US$/ သန်း) |
|---|---|---|---|
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း (ပြည်ပ) | ၀.၀၃၀ | | ၀.၀၃၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း (ပြည်တွင်း) | ၀.၃၆၀ | | ၀.၃၆၀ |
| မော်တော်ယာဉ်(ပြည်ပ) | ၀.၁၃၀ | | ၀.၁၃၀ |
| မော်တော်ယာဉ်(ပြည်တွင်း) | ၀.၀၅၀ | | ၀.၀၅၀ |
| ရေသန့်စင်စနစ် | ၀.၁၂၀ | | ၀.၁၂၀ |
| ရေဆိုးသန့်စင်စနစ် | ၀.၄၉၀ | | ၀.၄၉၀ |
| အဆောက်အဦတန်ဖိုး | ၂.၂၀၀ | | ၂.၂၀၀ |
| **စုစုပေါင်း** | **၈.၀၀၀** | **၂.၀၀၀** | **၁၀.၀၀၀** |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၉၀ဦးခန့်ထားမည်ဖြစ်ပြီး၊ ပြည်ပဝန်ထမ်း ၃ ဦးခန့်ထားမည်ဖြစ်သည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၃၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှာ အသင့်စားခေါက်ဆွဲများ ထုတ်လုပ်ပြီး ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှု အရေအတွက်နှင့် ရောင်းဈေးနှုန်းများအား **နောက်ဆက်တွဲ** (က) ဖြင့် တင်ပြထားပါသည်။

၇။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန**မှ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination- IEE) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရမည် ဖြစ်ကြောင်းသဘောထား ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-ခ**

(ခ) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့**မှ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၈။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Thai President Foods Public Company Limited အမည်ဖြင့် ထိုင်းနိုင်ငံ Bangkok Bank တွင် ၂၂-၅-၂၀၁၈ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁,၇၇၁,၆၁၂ နှင့် Ayeyarwaddy Food Industries Company Limited အမည်ဖြင့် မြန်မာနိုင်ငံ ကမ္ဘောဇဘဏ်တွင် ၃၁-၇-၂၀၁၈ ရက်စွဲဖြင့် မြန်မာကျပ်ငွေ ၁၄၀,၁၈၅,၉၁၅ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် Corporate Social Responsibility (CSR) အစီ အစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) အဆိုပြုလုပ်ငန်းသည် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination- IEE) ဆောင်ရွက်ရမည်ဖြစ်ပါသဖြင့်ကော်မရှင်သို့ အတည်ပြုချက် တင်ပြရခြင်းဖြစ်ပါသည်။

(ဃ) အဆိုပြုတင်ပြလာသည့် လုပ်ငန်းအမျိုးအစားနှင့် အလားတူလုပ်ငန်း (၁) ခုအား ကော်မရှင်မှခွင့်ပြုခဲ့ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Ayeyarwaddy Success Venture Foods Company Limited (ဧရာဝတီစပ်ဆက် (စ) ဗန်ချာဖု(ဒ်)(စ်) ကုမ္ပဏီလီမိတက်) မှ အသင့်စားခေါက်ဆွဲများ ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (က)

## ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (Ctn) | ရောင်းဈေးနှုန်း (ကျပ်/ Ctn) |
|---|---|---|---|
| ၁။ | Noodle | | |
| | -Shrimp Tom Yum flavour | ၃၄,၈၆၀ | ၂၇,၆၀၀ |
| | -Shrimp Tom Yum 5Pack | ၅၄,၆၆၀ | ၂၇,၃၀၀ |
| | -Chicken Soup flavour | ၁၅,၀၀၀ | ၂၄,၆၀၀ |
| | - Chicken Soup flavour 5Pack | ၃၂,၆၄၀ | ၂၄,၃၀၀ |
| | -Chicken Sichek flavour | ၆,၀၀၀ | ၂၄,၆၀၀ |
| | - Vegetable Sichek flavour | ၆၀၀ | ၂၄,၀၀၀ |
| | - Coconut Milk flavour | ၄,၆၈၀ | ၃၂,၄၀၀ |
| | - Egg Proteins Noodle | ၇၈၀ | ၂၄,၀၀၀ |
| | -Seafood Tom Yum Sichek flavour | ၁၃,၂၀၀ | ၂၄,၆၀၀ |
| | -Shrimp Creamy Tom Yum flavour | ၂,၅၂၀ | ၂၇,၆၀၀ |
| | - Chinese Kitchen flavour | ၄၂၀ | ၂၈,၂၀၀ |
| | -Korea Hot & Spicy flavour | ၁,၂၀၀ | ၂၉,၁၀၀ |
| | -Korea Hot & Spicy 5 Pack | ၅,၃၄၀ | ၂၈,၈၀၀ |
| | Snacks | | |
| | -Ranger Snack Shrimp Tom Yum | ၂၁,၇၈၀ | ၁၈,၇၂၀ |
| | -Ranger Snack Garlic Chicken | ၁၉,၀၈၀ | ၁၈,၇၂၀ |
| | -Ranger Snack BBQ | ၈၀,၂၅၆ | ၁၈,၇၂၀ |
| | -Ranger Snack Prawn | ၆၆၀ | ၁၈,၇၂၀ |
| | -Ranger Snack Popcorn | ၉၆၀ | ၁၈,၇၂၀ |
| | -Ranger Snack Sour Cream | ၁,၀၅၆ | ၁၈,၇၂၀ |
| | -Ranger Snack Pizza | ၁,၀၈၀ | ၁၈,၇၂၀ |
| | -Ranger Snack Nori Seaweed | ၃,၁၂၀ | ၁၈,၇၂၀ |

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (Ctn) | ရောင်းဈေးနှုန်း (ကျပ်/ Ctn) |
|---|---|---|---|
| | Noodle (CUP) | | |
| | -Shrimp Tom Yum flavour (Cup) | ၂,၀၄၀ | ၉,၉၅၀ |
| | -Chicken Soup flavour (Cup) | ၁,၀၂၀ | ၉,၄၅၀ |
| | - Coconut flavour | ၁,၀၂၀ | ၉,၉၅၀ |

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၆၀/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ ၂၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

MIC 3/7 25/9

အကြောင်းအရာ။ **Ayeyarwaddy Success Venture Foods Company Limited မှ အသင့်စားခေါက်ဆွဲများ ထုတ်လုပ်သောလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၉-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၃၁/ ၂၀၁၈(၄၄၁)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Ayeyarwaddy Success Venture Foods Company Limited တည်ထောင်ပြီး မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပုလိပ်-တံတားဦးလမ်း၊ တဘက်ဆွဲကျေးရွာအုပ်စု၊ ကွင်း- ၄(ခ)/တဘက်ဆွဲ၊ ဦးပိုင်အမှတ်- ၅၆(၂)၊ ၅၆ (၃)၊ ၅၇၊ ၅၈ နှင့် ကွင်း- ၅/တပ်မျှော၊ ဦးပိုင်အမှတ်- ၈၆(၁၀) အတွင်းရှိ စုစုပေါင်းမြေဧရိယာ ၆.၂၂ ဧက (၂၅,၁၇၁.၄၆ စတုရန်းမီတာ) ကိုငှားရမ်း၍ အသင့်စားခေါက်ဆွဲများ ထုတ်လုပ်သောလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင်ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ(၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၃) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၂၅,၁၇၁.၄၆ စတုရန်းမီတာ) ပေါ်တွင် Office & Dormitory Building (၃) ထပ်အဆောက်အဦ (၁) လုံး၊ Toilet, Canteen, Meeting Room (၃) ထပ် အဆောက်အဦ (၁) လုံး၊ Rice Husk Building (၁) ထပ် အဆောက်အဦ (၁) လုံး၊ Boiler Building (၁) ထပ် အဆောက်အဦ (၁) လုံး၊ Factory Building (၂) ထပ် (၁) လုံး၊ Generator Building (၁) ထပ် အဆောက်အဦ (၁) လုံး တည်ဆောက်ကာ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သောကုန်ကြမ်းပစ္စည်းများကို ပြည်တွင်း/ပြည်ပမှ ဝယ်ယူသုံးစွဲသွားမည်ဖြစ်ကာ အသင့်စား ခေါက်ဆွဲအရသာအမျိုးမျိုးနှင့် ခေါက်ဆွဲအခြေခံ သရေစာအဖြစ် အသင့်စားသုံးနိုင်သော Snacks များ အား နှစ်စဉ်တန်ချိန် (၂၅၀၀) ခန့် ထုတ်လုပ်ရောင်းချသွားမည်ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၁%) လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကာ လိုအပ်သော စွန့်ပစ်ရေပြန်လည်သန့်စင်သည့်စနစ်ကိုလည်း တည်ဆောက် တပ်ဆင်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Ayeyarwaddy Success Venture Foods Company Limited မှ အသင့်စားခေါက်ဆွဲများ ထုတ်လုပ်သောလုပ်ငန်း ဆောင်ရွက်ရာတွင် ထွက်ရှိမည့်စွန့်ပစ်အရည်များ၊ စွန့်ပစ်ပစ္စည်းများ၊ အခိုးအငွေ့များ ကြောင့် မြေထု၊ လေထုညစ်ညမ်းခြင်း၊

(ခ) အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများအား စနစ်တကျသိုလှောင်မှုမရှိပါက အနံ့အသက်များထွက်ရှိ၍ ပတ်ဝန်းကျင်ရှိပြည်သူများအား အနှောင့်အယှက်ဖြစ်ပေါ်စေနိုင်မှုစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ပြဿနာများ ဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) ထုတ်လုပ်မှု လုပ်ငန်းအဆင့်ဆင့်တွင် စက်ပစ္စည်းများကို အသုံးပြုဆောင်ရွက်ရသဖြင့် စွန့်ပစ်အမဲဆီ၊ အင်ဂျင်ဝိုင်နှင့် ဖိတ်စင်စက်သုံးဆီများနှင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(င) လောင်စာသုံး ဘွိုင်လာများ သုံးစွဲခြင်းကြောင့် ပြာနှင့်မီးသွေးများထွက်ရှိခြင်း၊ အခိုးအငွေ့များ လေထုအတွင်းသို့ထုတ်လွှတ်ခြင်း၊

(စ) စားသောက်ကုန်များကို ထုတ်ပိုးရာတွင် အသုံးပြုမည့် Plastic မှထွက် ရှိလာမည့် စွန့်ပစ်ပစ္စည်းများသည် ဆွေးမြေ့ရန်အချိန်ကြာမြင့်ပြီး စနစ်တကျ စီမံခန့်ခွဲခြင်းမရှိပါက လေထု၊ မြေထုနှင့် ရေထုကို ညစ်ညမ်းစေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Ayeyarwaddy Success Venture Foods Company Limited မှ အသင့်စားခေါက်ဆွဲများထုတ်လုပ်သောလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါ ရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ် ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေး

ဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၁%) ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့်ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းကြောင့်ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(Initial Environmental Examination-IEE)** ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန် နှင့် ဝန်ကြီးဌာနမှ လိုအပ်ပါက **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ပြုလုပ်ရန်၊

(ဂ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

၂၅/၉/၁၈

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆ (၅၉၁)
ရက်စွဲ၊ ၂၀၁၈ခုနှစ်၊ အောက်တိုဘာလ ၂၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈ - ၁၀ - ၂၀၁၈) ရက်စွဲပါ စာအမှတ်၊ မရက-၂ / ခ - ၀၃၁ / ၂၀၁၈( ၄၄၃)

ထိုင်းနိုင်ငံ Thai President Foods Public Co.,Ltd မှ (၅၁%)၊ Saha Pathanapibul Public Co.,Ltd မှ (၂၄%) Mantakanok Co.,Ltd မှ (၅%)နှင့် မြန်မာနိုင်ငံ ဧရာဝတီ စားသောက်ကုန်လုပ်ငန်းမှ (၂၀%) အစုရှယ်ယာများထည့်ဝင်၍ Ayeyarwaddy Success Venture Foods Company Limited တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ပလိပ်-တံတားဦးလမ်း၊ တဘက်ဆွဲကျေးရွာအုပ်စု၊ ကွင်း ၄(ခ) / တဘက်ဆွဲ၊ ဦးပိုင်အမှတ် ၅၆ /၂၊ ၅၆/၃၊ ၅၇၊ ၅၈နှင့် ကွင်း-၅/ တပ်မျှော၊ ဦးပိုင်အမှတ်၈၆/၁၀ရှိ မြေဧရိယာ ၆.၂၂ဧက (၂၅,၁၇၁.၄၆ စတုရန်းမီတာ)ကို ငှားရမ်း၍ အသင့်စားခေါက်ဆွဲများ ထုတ်လုပ်သောလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာသည့် ကိစ္စနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒေါက်တာဇော်မြင့်မောင်
ဝန်ကြီးချုပ်

မိတ္တူကို
လှည့်လည်စာတွဲ
ရုံးလက်ခံ